# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၈၀၀........... / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ မတ် လ ... ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ... အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဒေါ်သန်းသန်းစု......

(ခ) အဘအမည် ......ဦးအောင်ကြီး......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂/အစန (နိုင်) ၀၅၈၄၁၅......

(ဃ) နေရပ်လိပ်စာ ......အမှတ် (၂၁ - က)၊ ကမ္ဘာ့ဧလမ်း၊ ရွှေတောင်ကြား (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......နိုင်ငံတကာအဆင့်မီအသင့် အသုံးပြုရရောစပ်ပြီး ကွန်ကရစ် ( Ready Mixed Concrete) နှင့် ကွန်ကရစ်အခြေခံ ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......မြေတိုင်းရပ်ကွက်အမှတ် (၂၄)၊ မြေကွက်အမှတ် (၇၉)၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး......

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၂၃၀၀.၀၀ (သန်း) (ကျပ်သန်းပေါင်း နှစ်ထောင့်သုံးရာ)......

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့်ကြော်ငြာစာအမှတ်၊ ၃၁ / ၂၀၁၁ (မနသ)

## နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ တပေါင်းလဆန်း ၁၄ ရက်

## (၂၀၁၁ ခုနှစ်၊ မတ်လ ၁၈ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော စံစီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် ဦးမြင့်စိုးနှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ မြေကွက်အမှတ် (၇၉)၊ ငွေပင်လယ် စက်မှုဇုန်ရှိ (၂.၈၃) ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာ အဆင့်မီ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete)နှင့် ကွန်ကရစ်အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက် အား(၈-၁၀-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၄/၂၀၁၀)အစည်းအဝေး၌တင်ပြခဲ့ပါသည်။ ကော်မရှင်မှစိစစ်ခဲ့ပြီး(၂၃-၂-၂၀၁၁)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၇/ ၂၀၁၁) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး သဘောတူညီချက် အရ (၃-၃-၂၀၁၁) နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၉/၂၀၁၁)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး၍ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် (Ideal Business Success Co., Ltd.) အား နိုင်ငံတကာ အဆင့်မီ အသင့် အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၀၀/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း

ချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ယင်းအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ စီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက်အကောင် အထည်ဖော်ရမည်။

၄။ စီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် (Ideal Business Success Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် ပိုင်ရှင်ရှိ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၆။ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၇။ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံ ရမည်။

၈။ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၉။ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ / အောက်တိုဘာလများ) <u>မပျက်မကွက်</u> ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၁။ စီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထား သော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရ မည်။

၁၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၉၆/၂၀၁၁( ၄၅၃၂)၊
ရက် စွဲ ၊ ၂၀၁၁ ခုနှစ် ၊ မတ် လ ၁၈ ရက် ။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန။

၆။ **အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။**

၇။ **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။**

၈။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၉။ အလုပ်သမား ဝန်ကြီးဌာန။

၁၀။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၁။ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာကြွေထည်မြေထည်လုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအား ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၀။ အုပ်ချုပ်မှု ဒါရိုက်တာ၊ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၄၅ / ၁၄၈ /အဖရ (၉/ ၂၀၁၁ ) ။
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊မတ်လ ၂၁ ရက်။

**အ မှာ စာ**

အကြောင်းအရာ။ **စီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက်( Ideal Business Success Co., Ltd.)မှ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete ) နှင့် ကွန်ကရစ် အခြေခံဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ။**

၁။ ၂၀၁၁ ခုနှစ်၊ မတ်လ ၃ ရက်( ကြာသပတေး ) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၉/၂၀၁၁) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၄၅။ စီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက်( Ideal Business Success Co., Ltd.)မှ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete ) နှင့် ကွန်ကရစ် အခြေခံဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက် နေ့စွဲပါ အမှာစာအမှတ်၊ ရက - ၆ (ခ) / မ - ၁၅၀၃ / ၂၀၁၁ (၃၀၂၈) ။

အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု ။

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-၁၅၀၃ / ၂၀၁၁( ၃၀၂၈ )၊
ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဖေဖော်ဝါရီ လ ၂၅ ရက်။

**<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်</u>**

**<u>အမှာစာ</u>**

အကြောင်းအရာ။ ။ <u>စီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် (Ideal Business Success Co., Ltd)မှ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော စီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် ဦးမြင့်စိုးနှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသော မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ မြေကွက်အမှတ် (၇၉)၊ ငွေပင်လယ် စက်မှုဇုန်ရှိ (၂.၈၃) ဧက အကျယ်အဝန်း ရှိသော မြေနေရာတွင် နိုင်ငံတကာ အဆင့်မီ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သန်းသန်းစု (အဘ- ဦးအောင်ကြီး) မှ အဆိုပြု တင်ပြလာပါသည်။ မြေပိုင်ဆိုင်သူ ဦးမြင့်စိုး နှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် ရရှိထားသော မြေအား မိသားစုလုပ်ငန်း သဘောဖြင့် အဖိုးစားနားမဲ့ လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုကြောင်း တင်ပြထားပါသည်။

၂။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်း၍ (၂၃-၂-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၇/၂၀၁၁) အစည်းအဝေးမှ " လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း" ဆုံးဖြတ်ခဲ့ပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် လိုအပ်သော လျှပ်စစ် ဓါတ်အားများကို မဟာဓါတ်အား လိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင် Generator 400 KVA ဖြင့် သုံးစွဲမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန/အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထားများ ပြန်ကြားထားပါသည်။

(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊ ကုန်ကြမ်း၊ ကုန်ချော ဈေးနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိပါကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှု နှင့် စက်အင်အား/လူအင်အား အချိုးအစား ညီမျှမှု ရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊ နောက်ဆက်တွဲ(က)

(ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန မှ အဆိုပြုမြေနေရာကို စိစစ်ရာ မြေကွက်အား အုတ်စည်းရိုးကာရံထားကြောင်း၊ အဆိုပါ မြေပေါ်တွင် (၁၀'x၂၀') ဂိတ်တဲ(၁)ခု နှင့် (၁၆၀'x၈၀')ဂိုဒေါင်(၁)လုံး တို့ကို ဆောက်လုပ်ထားပါကြောင်း၊ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း၊ မြေဂရန် အမည်ပေါက်မှာ ဦးမြင့်စိုး+ဒေါ်သန်းသန်းစု ဖြစ်ပြီး ကုမ္ပဏီသို့ မိသားစုလုပ်ငန်းသဘောဖြင့် အခမဲ့ ဆောင်ရွက်ခွင့်ပြုမည် ဖြစ်သဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်မှု ရှိပါကြောင်း၊ နောက်ဆက်တွဲ(ခ)

၅။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ(ဂ)ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၂၃၀၀.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ်(၁၂၄၀.၀၀)သန်းဖိုးကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၃၀၀.၀၀ သန်း |
|---|---|---|
| (က) | ငွေပမာဏ | ၅၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၂၄၀.၀၀ |
| (ဂ) | ကုန်ကြမ်းစရိတ် | ၁၆၅.၀၀ |
| (ဃ) | အဆောက်အဦ | ၃၀၄.၄၀ |
| (င) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၉၀.၆၀ |

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် Ready Mixed Concrete များအား ပြည်တွင်းတွင် ရာနှုန်းပြည့် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ်လုပ်နိုင်မှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု |
|---|---|---|---|
| ၁။ | Ready Mixed Concrete | ကုဗမီတာ | ၁၄၄၀၀၀ |
| ၂။ | Concrete Brick | ယူနစ် | ၁၅၀၀၀၀၀၀ |
| ၃။ | Concrete Pole | ယူနစ် | ၁၀၀၀၀ |
| ၄။ | Concrete Pile | | |
| | Size A | ယူနစ် | ၆၀၀၀ |
| | Size B | ယူနစ် | ၆၀၀၀ |
| | Size C | ယူနစ် | ၆၀၀၀ |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေ ကျပ်( ၁၃၃၉၉.၀၀ )သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၂၆၇၉.၈၀)သန်း နှင့် ဝင်ငွေခွန် ကျပ် (၂၉၁.၀၆) သန်း ရရှိမည်ဖြစ်၍ စုစုပေါင်း ကျပ်(၂၉၇၀.၈၆)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၂) နှစ်နှင့် (၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR)မှာ (၃၃%) ဖြစ်ပါသည်။

၈။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၂၁၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ စက်ရုံ အလုပ်သမားနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် အလုပ်ဆင်းရက်မှန်ဆု၊ အလုပ်ကြိုးစားမှုဆု၊ လုပ်သက်အများဆုံးဆုများ စီစဉ်ပေးခြင်း၊ ထမင်းစားဆောင်(၁)ဆောင်၊ ရေချိုးခန်း (၂၀)ခန်း၊ သန့်စင်ခန်း (၁၀)ခန်း နှင့် Locker (၂)ခန်း ထားရှိပေးထားမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ဦးမြင့်စိုး နှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် မွေးမြူရေးနှင့် ရေလုပ်ငန်း ဖွံ့ဖြိုးရေး ဘဏ်လီမိတက်ရှိ (၂၄-၈-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ်(၆၀၀.၉၄)သန်း စာရင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံ

များ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၂။ စံစီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)မှ နိုင်ငံတကာ အဆင့်မီ အသင့်အသုံးပြု ရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံ ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၃။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း )

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊

ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့

လျှို့ဝှက်

၅

နောက်ဆက်တွဲ(က)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

**အမှတ် (၁) စက်မှုဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

M-360
8/2

စာအမှတ်၊ ၂၉ / ၁၈(၁)/ ၂၀၁၁ (၁၂၆၀)
ရက်စွဲ၊ ၂၀၁၁ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ပြည့်နှစ် စက်တင်ဘာလ ၂၇ ရက်နေ့စွဲပါ စာအမှတ်၊ ရကအ-၆(က)/မ-၁၀၉၆/၂၀၁၀(၁၄၆၃၄)

၁။ စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၇၉)ရှိ မြေ(၂. ၈၃)ဧကတွင် အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ်(Ready Mixed Concrete)နှင့် ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများထုတ်လုပ်ခြင်းကို ဆောင်ရွက်ခွင့်ပြုရန် တင်ပြလျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ်(Ready Mixed Concrete) နှင့် ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိပါသည်။

(ခ) ကုန်ကြမ်း/ကုန်ချောဈေးနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိပါသည်။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှု ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ်(Ready Mixed Concrete)နှင့် ကွန်ကရစ်အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် ဤဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိ(မရှိ)ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

လျှို့ဝှက်

လျှို့ဝှက်

၆

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၀ (စီ ၇၈၅၉)
ရက် စွဲ၊၂၀၁၀ခုနှစ် အောက်တိုဘာလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် စက်တင်ဘာလ(၂၇)ရက်နေ့စွဲပါစာအမှတ်၊ ရက - ၆(က)/မ-၁၀၉၆/၂၀၁၀ (၁၄၆၃၅)

၁။ စီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်မြေကွက်အမှတ် - ၇၉ ရှိ မြေ(၂.၈၃)ဧက တွင် အသင့်ရောစပ်ပြီး ကွန်ကရစ်နှင့် ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုမြေနေရာကို စိစစ်ရာ မြေကွက်အမှတ် - ၇၉ ( ၈၂၂'x ၁၆၅'/ ၁၃၅') (၂. ၈၃ ဧက)ကို အုတ်စည်းရိုး ကာရံထားပြီး မြေပေါ်တွင် ( ၁၀'x ၂၀') ဂိတ်တဲ (၁)ခု နှင့် ( ၁၆၀'x၈၀') ဂိုဒေါင်(၁)လုံးဆောက်လုပ်ထားပါသည်။ စီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးပါ။( ယင်းမြေနေရာနှင့်ပတ်ဝန်းကျင်အခြေအနေပြမြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။ )

၂။ အဆိုပါမြေကွက်၏ မြေဂရန်အမည်ပေါက်မှာ ဦးမြင့်စိုး + ဒေါ်သန်းသန်းစု ( လုပ်ငန်းအဆိုပြုသူ ) ဖြစ်ပြီး မြေကွက်အား စီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်သို့ မိသားစုလုပ်ငန်းသဘောဖြင့်အခမဲ့ဆောင်ရွက်ခွင့်ပြုမည်ဖြစ်ကြောင်းသိရှိရပါသည်။ ယင်းကိစ္စအား မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန်မရှိပါ ။

၃။ သို့ပါ၍ စီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှလုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၏ မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည် ။

၂၉/၁၀/၂၀၁၀

ဝန်ကြီး(ကိုယ်စား)
တင့်ဆွေ၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-၁၅၀၃ / ၂၀၁၁( ၂၄၄၄ )၊
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်။

# ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ ။ စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် (Ideal Business Success Co., Ltd)မှ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော စံစီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)သည် ဦးမြင့်စိုးနှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသော မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ မြေကွက်အမှတ် (၇၉)၊ ငွေပင်လယ် စက်မှုဇုန်ရှိ (၂.၈၃) ဧက အကျယ်အဝန်း ရှိသော မြေနေရာတွင် နိုင်ငံတကာ အဆင့်မီ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သန်းသန်းစု (အဘ- ဦးအောင်ကြီး) မှ အဆိုပြု တင်ပြလာပါသည်။ မြေပိုင်ဆိုင်သူ ဦးမြင့်စိုး နှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် ရရှိထားသော မြေအား မိသားစုလုပ်ငန်း သဘောဖြင့် အခမဲ့လုပ်ကိုင် ဆောင်ရွက်ခွင့်ပြုကြောင်း တင်ပြထားပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၄/၂၀၁၀) (၈-၁၀-၂၀၁၀) အစည်းအဝေးမှ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ "သဘောထားမှတ်ချက်များ ပြည့်စုံပါက ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် လိုအပ်သော လျှပ်စစ် ဓါတ်အားများကို မဟာဓါတ်အားလိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင် Generator 400 KVA ဖြင့် သုံးစွဲမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန/အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထားများ ပြန်ကြားထားပါသည်။

(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊ ကုန်ကြမ်း၊ ကုန်ချော ဈေးနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိပါကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှု နှင့် စက်အင်အား/လူအင်အား အချိုးအစား ညီမျှမှု ရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊ နောက်ဆက်တွဲ(က)

(ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန မှ အဆိုပြုမြေနေရာကို စိစစ်ရာ မြေကွက်အား အုတ်စည်းရိုးကာရံထားကြောင်း၊ အဆိုပါ မြေပေါ်တွင် (၁၀'x၂၀') ဂိတ်တဲ(၁)ခု နှင့် (၁၆၀'x၈၀')ဂိုဒေါင်(၁)လုံး တို့ကို ဆောက်လုပ်ထားပါကြောင်း၊ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း၊ မြေဂရန် အမည်ပေါက်မှာ ဦးမြင့်စိုး+ဒေါ်သန်းသန်းစု ဖြစ်ပြီး ကုမ္ပဏီသို့ မိသားစုလုပ်ငန်းသဘောဖြင့် အခမဲ့ ဆောင်ရွက်ခွင့်ပြုမည် ဖြစ်သဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်မှု ရှိပါကြောင်း၊ နောက်ဆက်တွဲ(ခ)

၅။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ(ဂ)ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၂၃၀၀.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ်(၁၂၄၀.၀၀)သန်းဖိုးကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၃၀၀.၀၀ သန်း |
|---|---|
| (က) ငွေပမာဏ | ၅၀၀.၀၀ |
| (ခ) စက်ပစ္စည်းကိရိယာများ | ၁၂၄၀.၀၀ |
| (ဂ) ကုန်ကြမ်းစရိတ် | ၁၆၅.၀၀ |
| (ဃ) အဆောက်အဦ | ၃၀၄.၄၀ |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၉၀.၆၀ |

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် Ready Mixed Concrete များအား ပြည်တွင်းတွင် ရာနှုန်းပြည့် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ်လုပ်နိုင်မှု နှင့် ရောင်းဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု | တစ်ယူနစ် ပြည်တွင်းရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁။ | Ready Mixed Concrete | ကုဗမီတာ | ၁၄၄၀၀၀ | ၇၁၈၀၀ |
| ၂။ | Concrete Brick | ယူနစ် | ၁၅၀၀၀၀၀၀ | ၆၁ |
| ၃။ | Concrete Pole | ယူနစ် | ၁၀၀၀၀ | ၉၇၂၇၂ |
| ၄။ | Concrete Pile | | | |
| | Size A | ယူနစ် | ၆၀၀၀ | ၅၃၈၁၃ |
| | Size B | ယူနစ် | ၆၀၀၀ | ၆၉၀၁၆ |
| | Size C | ယူနစ် | ၆၀၀၀ | ၇၂၅၁၈ |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | (ကျပ်သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃၃၉၉.၀၀ |
| (ခ) | အသုံးစရိတ် | ၁၂၇၁၉.၈၅ |
| (ဂ) | အသားတင်အမြတ် | ၆၇၉.၁၅ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၂၆၇၉.၈၀)သန်း နှင့် ဝင်ငွေခွန် ကျပ် (၂၉၁.၀၆)သန်း ရရှိမည်ဖြစ်၍ စုစုပေါင်း ကျပ်(၂၉၇၀.၈၆)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၂) နှစ်နှင့် (၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR)မှာ (၃၃%) ဖြစ်ပါသည်။

၉။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၂၁၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ စက်ရုံ အလုပ်သမားနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် အလုပ်ဆင်းရက်မှန်ဆု၊ အလုပ်ကြိုးစားမှုဆု၊ လုပ်သက်အများဆုံးဆုများ စီစဉ်ပေးခြင်း၊ ထမင်းစားဆောင်(၁)ဆောင်၊ ရေချိုးခန်း (၂၀)ခန်း၊ သန့်စင်ခန်း (၁၀)ခန်း နှင့် Locker (၂)ခန်း ထားရှိပေးထားမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၀။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ဦးမြင့်စိုး နှင့် ဒေါ်သန်းသန်းစု အမည်ဖြင့် မွေးမြူရေးနှင့် ရေလုပ်ငန်း ဖွံ့ဖြိုးရေး ဘဏ်လီမိတက်ရှိ (၂၄-၈-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ်(၆၀၀.၉၄)သန်း စာရင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၃။ စံစီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက် ( Ideal Business Success Co., Ltd)မှ နိုင်ငံတကာ အဆင့်မီ အသင့်အသုံးပြု ရောစပ်ပြီး ကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံ ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၄။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒကောင်စီ

## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဥ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | စံစီးပွားရေး အောင်မြင်မှု ကုမ္ပဏီလီမိတက် (Ideal Business Success Co., Ltd) | ၁။ ဒေါ် သက်ဝေဖြိုး (အုပ်ချုပ်မှု ဒါရိုက်တာ) | အမှတ် ၂၁(က)၊ ကမ္ဘောဇလမ်း၊ ရွှေတောင်ကြား (၂)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးဥာဏ်လင်း (ဒါရိုက်တာ) | အမှတ်(၁၃၂)၊ (၂)လမ်း၊ (၁)ရပ်ကွက်၊ သမိုင်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်သန်းသန်းစု (ဒါရိုက်တာ) | အမှတ် ၂၁(က)၊ ကမ္ဘောဇလမ်း၊ ရွှေတောင်ကြား(၂)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ | - | ၀၁ - ၆၈၄၅၁၃၊ ၆၈၄၆၈၃ |
| ဖက်စ်နံပါတ် | - | ၀၁ - ၆၈၄၅၁၃ |
| ၂။ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ | - | မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ မြေကွက်အမှတ်(၇၉)၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - | ဒေါ်သန်းသန်းစု ( ဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - | စက်မှု/ထုတ်လုပ်မှုလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - | ၄၉၁/၂၀၀၈-၂၀၀၉ (၃၀-၇-၂၀၀၈) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့်နေ့စွဲ | - | ၁၂-၂-၂၀၁၁ (သက်တမ်းတိုးဆောင်ရွက်နေပါသည်။) |
| ၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် | - | LFDB ဘဏ် 0011120020036 |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

M-1674
20/10

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၀ (စီ ၇၈၅၉)
ရက် စွဲ၊ ၂၀၁၀ခုနှစ် အောက်တိုဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် စက်တင်ဘာလ(၂၇)ရက်နေ့စွဲပါစာအမှတ်၊ ရက - ၆(က)/မ-၁၀၉၆/ ၂၀၁၀ (၁၄၆၃၅)

၁။ စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန် မြေကွက်အမှတ် - ၇၉ ရှိ မြေ(၂.၈၃)ဧက တွင် အသင့်ရောစပ်ပြီး ကွန်ကရစ်နှင့် ကွန်ကရစ်အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုမြေနေရာကို စိစစ်ရာ မြေကွက်အမှတ် - ၇၉ ( ၈၂၂ ' x ၁၆၅ ' / ၁၃၅ ' ) (၂. ၈၃ ဧက)ကို အုတ်စည်းရိုး ကာရံထားပြီး မြေပေါ်တွင် ( ၁၀ ' x ၂၀ ' ) ဂိတ်တဲ (၁)ခု နှင့် ( ၁၆၀ 'x၈၀ ' ) ဂိုဒေါင်(၁)လုံးဆောက်လုပ်ထားပါသည်။ စံစီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးပါ။( ယင်းမြေနေရာနှင့်ပတ်ဝန်းကျင်အခြေအနေပြမြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။ )

၂။ အဆိုပါမြေကွက်၏ မြေဂရန်အမည်ပေါက်မှာ ဦးမြင့်စိုး + ဒေါ်သန်းသန်းစု ( လုပ်ငန်းအဆိုပြုသူ ) ဖြစ်ပြီး မြေကွက်အား စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်သို့ မိသားစုလုပ်ငန်းသဘောဖြင့်အခမဲ့ဆောင်ရွက်ခွင့်ပြုမည်ဖြစ်ကြောင်းသိရှိရပါသည်။ ယင်းကိစ္စအား မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန်မရှိပါ ။

၃။ သို့ပါ၍ စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှလုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၏ မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည် ။

၁၉/၁၀/၂၀၁၀

ဝန်ကြီး(ကိုယ်စား)
တင့်ဆွေ၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

စာအမှတ်၊ ဦးပံ/နဆစ/ရလပ-၈/၂၀၁၀(၆၈၂)
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊အောက်တိုဘာလ(၁၃)ရက်

အကြောင်းအရာ။ ။သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၉.၂၀၁၀ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/ မ-၁၀၉၆/ ၂၀၁၀(၁၄၆၃၅)
(၂)ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၃၀.၉.၂၀၁၀ ရက်စွဲပါစာအမှတ်၊၂၆/ခွဲ-၃/၂၀၁၀ (၆၃၃၄)

၁။ စံပီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေကွက်အမှတ်- ၇၉ ရှိ မြေ(၂.၈၃ဧက)တွင် အဆင့်ရောစပ်ပြီး ကွန်ကရစ်နှင့် ကွန်ကရစ်အခြေခံဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ သဘောထားမှတ်ချက်ကို ရည်ညွှန်းပါစာများဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပြုမြေနေရာတိုင်းစစ်ရာ မြေကွက်အမှတ်-၇၉(၈၂၂×၁၆၅/၁၃၅)(၂.၈၃ဧက)ကိုအုတ်စည်းရိုးကာရံထားပြီး၊ မြေပေါ်တွင်(၁၀'×၂၀')ဂိတ်တဲ(၁)ခုနှင့် (၁၆၀'×၈၀')ဂိုဒေါင်(၁)လုံး ဆောက်လုပ်ထားပါသည်။ စံပီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးပါ။ (ယင်းမြေနေရာနှင့် ပတ်ဝန်းကျင်ပြခြေအနေပြမြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။)

၃။ အဆိုပါမြေကွက်၏ မြေငှားရမ်းသည့်ပေါက်မှာ ဦးမြင့်ဦး၊ ဒေါ်သန်းသန်းစု(လုပ်ငန်းအဆိုပြုသူ) မြေပိုင်ရှင်မြေကွက်အား စံပီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်သို့ မိသားစုလုပ်ငန်းသဘောဖြင့် အခမဲ့ဆောင်ရွက်ခွင့်ပြုထားခြင်းဖြစ်ကြောင်းသိရှိရပါသည်။ ယင်းကိစ္စအား မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန်မရှိပါ။

၄။ သို့ပါ၍ - စံပီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ၏ မြေပေါ် အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းနေရာတွင် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

(အောင်ဝင်း)
ညွှန်ကြားရေးမှူးချုပ်

သို့
ဆောက်လုပ်ရေးဝန်ကြီးဌာန

မိတ္တူကို (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
(၂) ရုံးလက်ခံ
(၃) မျှောစာ

FRS

# ငွေပင်လယ်စက်မှုဇုန်(၁) ၊ မြေကွက်အမှတ် - ၇၉

## တည်နေရာပြမြေပုံကြမ်း




☐ စီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ

မြေကွက်၏အလားအလာ

| | | |
|---|---|---|
| အရှေ့သို့လားသော် | - | မြေကွက်အမှတ်- ၇၈(မြေကွက်လပ်) |
| အနောက်သို့လားသော် | - | မြေကွက်အမှတ်- ၈၀(မြေကွက်လပ်) |
| တောင်သို့လားသော် | - | ဆိပ်ကမ်းသာလမ်း |
| မြောက်သို့လားသော် | - | လှိုင်မြစ် |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

## အဆိုပြုချက်

## စီးပွားရေးအောင်မြင်မှု ကုမ္ပဏီလီမိတက်

**************

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR.

## IDEAL BUSINESS SUCCESS CO., LTD.

**IBS**

# IDEAL BUSINESS SUCCESS CO., LTD.

EXPORTER, IMPORTER, GENERAL TRADING & SERVICE

Regd. Office : No.30, Nat Maw Street, Ohn Kone Ward, Hinthata Township, Ayeyarwaddy Division.

Front Office : No.118, Mekhayar Minthagyi Maung Pyo St, Hlaing Tharyar Industrial City Zone(2), Yanogn, Myanmar.

Tel : 684513, 684683, Fax : 95-1684513 E-mail : thanthansu@baganmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ။ ။၂၀၁၀ခုနှစ်၊ [illegible] လ၊ (၂၇)ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များအကြိုစိစစ်ပေးနိုင်ရန် ပေးပို့ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့ကုမ္ပဏီအနေဖြင့် ရန်ကုန်တိုင်းလှိုင်သာယာမြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊မြေကွက်အမှတ်(၇၉)၊ငွေပင်လယ်စက်မှုဇုန်၊ဧက(၂.၈၃)အကျယ်အဝန်းရှိသောမြေနေရာတွင် နိုင်ငံတကာအဆင့်မီ အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ် (Ready Mixed Concrete) နှင့် ကွန်ကရစ် အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်နိုင်ရန်အတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်မတို့ကုမ္ပဏီ၏အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ပါရန်အဆိုပြုလွှာ(၆)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဒေါ်သန်းသန်းစု
(ဒါရိုက်တာ)
IDEAL BUSINESS SUCCESS CO., LTD.

# IDEAL BUSINESS SUCCESS CO., LTD.

EXPORTER, IMPORTER, GENERAL TRADING & SERVICE

Regd. Office : No.30, Nat Maw Street, Ohn Kone Ward, Hinthata Township, Ayeyarwaddy Division.
Front Office : No.118, Mekhayar Minthagyi Maung Pyo St, Hlaing Tharyar Industrial City Zone(2), Yanogn, Myanmar.
Tel : 684513, 684683, Fax : 95-1684513 E-mail : thanthansu@baganmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ။ ။၂၀၁၀ခုနှစ်၊ ဩဂုတ် လ၊(၂၇)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ကျွန်မတို့၏ **IDEAL BUSINESS SUCCESS CO., LTD.** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတွင် နိုင်ငံတကာအဆင့်မီ အသင့်အသုံးပြု ရောစပ်ပြီးကွန်ကရစ်**(Ready Mixed Concrete)** နှင့် ကွန်ကရစ်အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း များထုတ်လုပ်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီလျှောက်ထားခြင်းဖြစ်ပါသည်။ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြုပါသည်။

(၁) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိမှသာ စတင်ဆောင်ရွက်မည့်လုပ်ငန်းအသစ်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၃) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၄) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထုနှင့် မြေထုတို့ညစ်ညမ်းမှု မဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဒေါ်သန်းသန်းစု
(ဒါရိုက်တာ)
**IDEAL BUSINESS SUCCESS CO.,LTD.**

IBS **IDEAL BUSINESS SUCCESS CO., LTD.**

EXPORTER, IMPORTER, GENERAL TRADING & SERVICE

Regd. Office : No.30, Nat Maw Street, Ohn Kone Ward, Hinthata Township, Ayeyarwaddy Division.

Front Office : No.118, Mekhayar Minthagyi Maung Pyo St, Hlaing Tharyar Industrial City Zone(2), Yanogn, Myanmar.

Tel : 684513, 684683, Fax : 95-1684513 E-mail : thanthansu@baganmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ၊ (၂၇) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးပါရန်နှင့် ယင်းဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်မတို့ **IDEAL BUSINESS SUCCESS CO., LTD.** အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်နိုင်ငံတကာအဆင့်မီ အသင့်အသုံးပြုရောစပ်ပြီး ကွန်ကရစ် **(Ready Mixed Concrete)**နှင့် ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်နိုင်ရန် အတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်မတို့ကုမ္ပဏီသည် ရန်ကုန်တိုင်းလှိုင်သာယာမြို့နယ်၊မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၇၉)၊ငွေပင်လယ်စက်မှုဇုန်၊ကေ(၂.၈၃)အကျယ်အဝန်းရှိသော မြေနေရာတွင်နိုင်ငံတကာအဆင့်မီ အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ်**(Ready Mixed Concrete)**နှင့်ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများထုတ်လုပ်နိုင်ရန်အတွက် စက်ရုံတည်ဆောက်ပြီး၊ပြည်တွင်းနှင့်ပြည်ပမှ ကုန်ကြမ်းများဝယ်ယူ၍ ခေတ်မီနည်းပညာများ၊စက်ကိရိယာများဖြင့် ထုတ်လုပ်၍ ပြည်တွင်းတွင်ရောင်းချမည်ဖြစ်ပါသည်။

၃။ ကျွန်မတို့ကုမ္ပဏီသည် နိုင်ငံတကာအဆင့်မီ စက်ရုံတည်ဆောက်ပြီးအသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ် **(Ready Mixed Concrete)**နှင့်ကွန်ကရစ်အခြေခံ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများထုတ်လုပ်နိုင်ရန်အတွက် မတည်ရင်းနှီးငွေကျပ်သန်းပေါင်း (၂၃၀၀)သန်းကို မြန်မာကျပ်ငွေ၊စက်ရုံ အဆောက်အဦး၊စက်ပစ္စည်းကရိယာများ ဖြင့် ထည့်ဝင်ပြီးရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။

၄။ ကျွန်မတို့ ကုမ္ပဏီ၏ နိုင်ငံတကာအဆင့်မီ စက်ရုံတည်ဆောက်၍ အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ် **(Ready Mixed Concrete)**နှင့်ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းများသည် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများတိုးပွားရရှိစေခြင်း၊ မြန်မာနိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက်ပေါ်ပေါက်စေခြင်း၊ နိုင်ငံတော်အတွင်းခေတ်မီနည်းပညာရပ်များတိုးပွားရရှိစေခြင်း၊ နိုင်ငံတော်၏ဘက်စုံစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအရှိန်အဟုန်မြှင့်၍ ထောက်ကူပံ့ပိုးပေးခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရန် အကာအကွယ်ပေးသည့် ပစ္စည်းကိရိယာများ(Environmental Treatment Plants) တပ်ဆင် အသုံးပြုခြင်းစသည့် အကျိုးစီးပွားဖြစ်ထွန်းပေါ်ပေါက်စေသည့်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဤအဆိုပြုချက်ကိုလက်ခံ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့် (Permit) ပေးပါရန်လေးစားစွာ လျှောက်ထားတင်ပြအပ်ပါသည်။

၅။ ကျွန်မတို့ကုမ္ပဏီအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များခံစားခွင့်ပြုပါရန်နှင့် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထား တင်ပြခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

၆။ ဤအဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းအထောက်အထားများကိုပူးတွဲတင်ပြ အပ်ပါသည်။

(၁) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ–ပုံစံ)၊
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊
(၃) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊
(၄) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုများ စသည်တို့ ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လက်ခံခွင့်ပြုပါရန်နှင့် အခွန်ဆိုင် ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်နှင့် ခွင့်ပြုမိန့် (Permit) ထုတ်ပေးပါရန် လေးစားစွာ လျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(signature)

ဒေါ်သန်းသန်းစု
(ဒါရိုက်တာ)
**IDEAL BUSINESS SUCCESS CO.,LTD.**

IBS
# IDEAL BUSINESS SUCCESS CO., LTD.

EXPORTER, IMPORTER, GENERAL TRADING & SERVICE

Regd. Office : No.30, Nat Maw Street, Ohn Kone Ward, Hinthata Township, Ayeyarwaddy Division.
Front Office : No.118, Mekhayar Minthagyi Maung Pyo St, Hlaing Tharyar Industrial City Zone(2), Yanogn, Myanmar.
Tel : 684513, 684683, Fax : 95-1684513 E-mail : thanthansu@baganmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ။ ။၂၀၁၀ခုနှစ်အောက်တိုဘာလ (၆)ရက်။

အကြောင်းအရာ။ ။အဆိုပြုချက်အပေါ်ကနဦးစိစစ်တွေ့ရှိချက်အရ လိုအပ်ချက်များအား ပြန်လည်ရှင်းလင်းတင်ပြခြင်း။

ကျွန်မတို့ စံစီးပွားရေးအောင်မြင်မှုကုမ္ပဏီလီမိတက်သည် အသင့်အသုံးပြုရောစပ်ပြီးကွန်ကရစ် (Ready Mixed Concrete)နှင့် ကွန်ကရစ်အခြေခံဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

အဆိုပြုလွှာကို ၂၇-၈-၂၀၁၀ရက်နေ့တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ကနဦးစိစစ်တွေ့ရှိချက်များအရ လိုအပ်ချက်များအား ဤစာနှင့်အတူပူးတွဲ၍ ပြန်လည်ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

( THAN THAN SU )
Director
IDEAL BUSINESS SUCCESS CO., LTD

